ပုံစံ (မနသ-၂)

စာအမှတ် ၁၇၅၉.၁

ရက်စွဲ ၁၉/၁၂/၂၀၁၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၁၁/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးသတိုးဟိန်း

(ခ) **အဘ အမည်** ဦးထွန်းဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/မရက(နိုင်) ၀၀၃၄၀၃

(ဃ) **နေရပ်လိပ်စာ** အမှတ်-၆၅/အေ၊ တက္ကသိုလ်ရိပ်သာလမ်း၊ ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Myanma Awba Group Company Limited (မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဓာတ်မြေဩဇာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်း သိုလှောင်ရုံဝင်းရှိ မြေဧရိယာ(၇.၄၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၆,၃၇၃.၆၇၀ တိတိ (အမေရိကန်ဒေါ်လာ ၁.၈၇၉ သန်းခန့် အပါအဝင် ကျပ်ခြောက်ထောင်သုံးရာ ခုနှစ်ဆယ့် သုံးသန်း ခြောက်သိန်းခုနှစ်သောင်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

(ည) **လုပ်ငန်းသက်တမ်း** ၁၀ နှစ်

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၂ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanma Awba Group Company Limited (မြန်မာ့ သြဘာ အုပ်စုကုမ္ပဏီလီမိတက်) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းရှိ မြေဧရိယာ ၇.၄၀ ဧက (၂၉၉၄၆.၇၆၄ စတုရန်းမီတာ) အား ငှားရမ်း၍ ဓာတ်မြေသြဇာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်ကို ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂၂/၂၀၁၅) အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Awba Group Company Limited (မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်) ကို ဓာတ်မြေသြဇာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၁၁/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Myanma Awba Group Company Limited (မြန်မာ့သြဘာအုပ်စု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ် ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံ ရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၅။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအတည်ပြုပြီး ဖြစ်သော လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ပလိပ်ကြား စခန်းသိုလှောင်ရုံများအား ငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြင်ဆင်သည့် သဘောတူစာချုပ်ပါ စည်းမျဉ်း စည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှား စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၁၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။

၈။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း အတွက် တစ်နှစ်လျှင် ကျပ် ၂၅၀ သိန်း (ကျပ် နှစ်ရာ့ ငါးဆယ်သိန်း တိတိ)အား လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက် ရမည်။

၁၀။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီး မှုများ လျော့နည်း စေရေးတို့အတွက် ပတ်ဝန်း ကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်း ကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင် ခံရမည်။

၁၁။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီး ဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၂။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြု တတ်စေရန် သင်တန်းများ ပေးရမည်။

၁၃။ ထို့ပြင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်း ကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံ ရမည်။

၁၄။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် စိုက်ပျိုးရေးဦးစီးဌာနတွင် မြေသြဇာဖြန့်ဖြူး ရောင်းချခွင့်လိုင်စင်နှင့် မြေသြဇာကော်မတီ၏ မြေသြဇာ ထုတ်လုပ်ခွင့် မှတ်ပုံတင်လက်မှတ်တို့ကို လျှောက်ထားဆောင်ရွက်ပြီး ယင်းမှတ်ပုံတင် လက်မှတ် (မိတ္တူ)နှင့် လိုင်စင်(မိတ္တူ)များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ **မပျက်မကွက်** တင်ပြရန် နှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မန္တလေးတိုင်းဒေသကြီး စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၅။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှုအစီရင်ခံစာကိုဤခွင့်ပြုမိန့်ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ ဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်**မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

၁၈/၁၂

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၂၆၈/၂၀၁၅ (၁၇၇၉ ၀၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စု ကုမ္ပဏီလီမိတက်)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မြန်မာ့ဩဘာဒုပ်စုကုမ္ပဏီလီမိတက်၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၁-၉-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁-၁၀-၂၀၁၅ | ၁၃-၁၁-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၂၁-၁၀-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၁၃-၁၀-၂၀၁၅ | |
| | - လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၂၃-၁၀-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး သို့ တင်ပြခြင်း | ၃၅/၂၀၁၅ (၂၈-၉-၂၀၁၅) | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၃၀-၉-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၄-၁၁-၂၀၁၅ | | |
| ၆ | **စုစုပေါင်းကြာမြင့်ရက်** | **(၅၄)ရက်** | | |

**အကြောင်းအရာ။** **မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်မှ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသတိုးဟိန်း(အဘ-ဦးထွန်းဝင်း) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက် (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်း သိုလှောင်ရုံ |
| ၅။ | မြေပိုင်ရှင် | - လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာန ဌာနပိုင် သိုလှောင်ရုံများအား မြန်မာ့သြဘာ အုပ်စုကုမ္ပဏီလီမိတက်မှ ငှားရမ်းမည် ဖြစ်ပါသည်။ |
| | မြေအကျယ်အဝန်း | - ၇.၄၀ ဧက (၂၉,၉၄၆.၇၆၄ စတုရန်းမီတာ) |
| | မြေငှားရမ်းကာလ | ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် သိန်း ၂၅၀ ဖြစ်ပါ သည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၁၀) နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၆,၃၇၃.၆၇ သန်း (US$၁.၈၇၉သန်းအပါအဝင်)** |
| | ထည့်ဝင်သည့် အမျိုးအစား | ကျပ် (သန်း) |

| ထည့်ဝင်သည့် အမျိုးအစား | **ပြည်တွင်း** | **ပြည်ပ** | **စုစုပေါင်း** |
|---|---|---|---|
| - ငွေပမာဏ | ၂၀၀.၀၀ | - | ၂၀၀.၀၀ |
| - စက်ပစ္စည်းများ | - | ၂,၀၃၈.၂၀ (US$၁.၆၉၉သန်း) | ၂,၀၃၈.၂၀ |
| - မော်တော်ယာဉ် | ၁,၃၃၉.၀၀ | ၂၁၆.၀၀ (US$ ၀.၁၈၀ သန်း) | ၁,၅၅၅.၀၀ |
| - အဆောက်အဦတည်ဆောက်မှု | ၂,၄၂၉.၄၇ | - | ၂,၄၂၉.၄၇ |
| - လျှပ်စစ်ပစ္စည်းများ | ၁၅၁.၀၀ | - | ၁၅၁.၀၀ |
| စုစုပေါင်း | ၄,၁၁၉.၄၇ | ၂,၂၅၄.၂၀၀ **(US$ ၁.၈၇၉ သန်း)** | ၆,၃၇၃.၆၇ |

| | | |
|---|---|---|
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၆၃,၀၆၉.၀၁ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁၆၀,၆၈၀.၃၈ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၂,၃၈၈.၆၃ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | ( 1 US$ = ၁,၂၀၀ ကျပ်) |
| | ဝင်ငွေခွန် | - ကျပ် ၇၉၆.၂၁၀ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၃ နှစ် ၈ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၃၃.၀၇% |
| ၁၃။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀% ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ |
| ၁၄။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (၆ နှစ်မြောက်) | - |

| စဉ် | အမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း (Ton/ကျပ်) |
|---|---|---|---|
| ၁ | Comet 15 + 7 +7 | ၇.၈၃ | ၄၅၃,၀၀၀ |
| ၂ | Shwe Comet 20+12+12 | ၁၈.၈၀ | ၅၃၃,၀၀၀ |
| ၃ | Comet 15+10+15 | ၇.၈၃ | ၄၉၃,၀၀၀ |
| ၄ | Comet 15+15+15 | ၁၅.၆၆ | ၅၇၃,၀၀၀ |
| ၅ | Comet 16+16+8 | ၁၂.၅၃ | ၅၄၃,၀၀၀ |
| ၆ | Comet N Super | ၇.၈၃ | ၄၈၃,၀၀၀ |
| ၇ | Comet N 46% | ၃၁.၃၃ | ၄၂၃,၀၀၀ |
| ၈ | Comet G 21% | ၃၉.၁၆ | ၃၁၃,၀၀၀ |
| ၉ | Paung Thae Apinkaung | ၅၀.၁၃ | ၂၉၃,၀၀၀ |
| ၁၀ | Comet Speed | ၂၃.၅၀ | ၆၆၃,၀၀၀ |
| ၁၁ | Comet V-Super | ၃၂.၁၁ | ၆၇၃,၀၀၀ |
| ၁၂ | Comet 16+16+16 | ၁၄.၁၀ | ၆၅၃,၀၀၀ |
| ၁၃ | Comet G-46 | ၃၁.၃၃ | ၄၅၃,၀၀၀ |
| ၁၄ | Nitrophoska 15+15=15 | ၂၆.၆၃ | ၇၄၃,၀၀၀ |
| ၁၅ | Nitrophoska 20+10+10 | ၇.၈၃ | ၇၀၃,၀၀၀ |

| | | |
|---|---|---|
| ၁၅။ | ဝန်ထမ်းအင်အား(ပထမနှစ်) | ၂၂၇ ဦး |
| | ပြည်တွင်း | - ၂၂၆ ဦး (အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | - ၁ ဦး (ပုံသေလစာ US$ ၄,၇၀၀) |
| ၁၆။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၀၀ HP |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ ၏ ၂% ကို Corporate Social Responsibility အဖြစ်အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - မီးငြိမ်းသတ်ရန် အဖွဲ့ ဖွဲ့စည်းခြင်း၊ မီးသတ် ဆေးဘူးများ၊ မီးသတ် ရေပုံး၊ မီးသတ်စင်၊ မီးကပ်၊ မီးချိပ်၊ သံ၊ ဂေါ်ပြား၊ ၁၂,၀၀၀ ဂါလံဆန့် မီးသတ် ရေကန် ၁ ကန် နှင့် ၅,၀၀၀ ဂါလံဆန့် ရေလှောင်ကန် ၁ ကန်တို့ ထားရှိမည် ဖြစ်ကြောင်း မီးငြိမ်းသတ်ရေး အစီအစဉ်တွင် တင်ပြထား ပါသည်။ |
| ၁၉။ | အခြား | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်၏ကုမ္ပဏီမှတ်ပုံတင်အထောက်အထား၊ ပုံစံ ၆ ၊ ပုံစံ ၂၆၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ ကိုတင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက် သည် ၃၀-၆-၂၀၁၅ အထိ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၃၇၂,၀၇၂,၆၉၁.၅၈ နှင့် ရောဝတီ ဘဏ် တွင် ၃၀-၆-၂၀၁၅ အထိ ကျပ် ၁,၇၆၂,၁၂၄,၃၀၆.၄၄ ရှိ ကြောင်း အထောက်အထားများအား တင်ပြထားပါ သည်။<br>- လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနနှင့် မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ် ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်၍ ၂၀၁၄ ခုနှစ် သြဂုတ်လ ၁၈ ရက်နေ့၌ လက်မှတ် ရေးထိုး ချုပ်ဆိုပြီး ဖြစ်သည့် ငှားရမ်းခြင်း သဘောတူ စာချုပ်အား တင်ပြထားပါသည်။ သဘောထား မှတ်ချက် ပြန်ကြား ပြီး ဖြစ်ပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြား စခန်းရှိ မြေဧရိယာ ၇.၄၀ ဧက (၂၉,၉၄၆.၇၆၄ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၆,၃၇၃.၆၇၀သန်း(US$ ၁.၈၇၉ သန်း အပါအဝင်) |
| ရောင်းချမည့် နည်းစနစ် | - ၁၀၀% ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၃ နှစ် ၈ လ |
| IRR | - ၃၃.၀၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၅.၆၀၀ | - |
| ၄ | ဝင်ငွေခွန် | ၁,၆၀၉.၈၂၃ | ၆,၉၁၀.၈၅၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခနှင့် အခြားအခွန်အခများ | - | ၉,၀၈၀.၉၁၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၉၄)ဦး |
| ၇ | CSR (၂ %) | - | ၁၂၈.၇၉၀ |
| ၈ | မြေငှားရမ်းခရငွေ | - | ၃၀၀.၀၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၂၂၆) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | | ကျပ် ၁,၆၅၇.၅၈၃ သန်း | ကျပ် ၁၆,၄၂၁.၇၁၅ သန်း |
| | Cost : Benefit | ၁ : ၉ | |

ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၃/ မ- ၁၂၆၈/ ၂၀၁၅ ( ၁၆၀၁.၈ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
### တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်မှ ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်သည် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်း ရှိ မြေဧရိယာ ၇.၄၀ ဧက (၂၉၉၄၆.၇၆၄ စတုရန်း မီတာ) အား ငှားရမ်း၍ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနမှ တဆင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင်ထားသည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီး ဌာနနှင့် မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုပြီးဖြစ်သည့် ငှားရမ်းခြင်း သဘောတူစာချုပ်၊ ထုတ်လုပ်မည့် ပစ္စည်း နမူနာပုံများ၊ လုပ်ငန်းတည်နေရာပြ မြေပုံများ၊ ဆောက်လုပ်မည့် အဆောက်အဦ ဓာတ်ပုံနှင့် ကုမ္ပဏီ၏ သင်းဖွဲ့ မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၂၉,၉၄၆.၇၆၄ စတုရန်းမီတာ (၇.၄၀ ဧက) ဖြစ်ပြီး မြေနှင့် အဆောက်အဦ၏ ငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ် သိန်း ၂၅၀ ဖြစ်ပါသည်။ မြေငှား သက်တမ်းမှာ ကနဦး ၁၀ နှစ် နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်း တိုးမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၁၀ နှစ်၊ သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၆,၃၇၃.၆၇ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ထည့်ဝင်သည့်အမျိုးအစား | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (ကျပ်သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၂၀၀.၀၀ | - | ၂၀၀.၀၀ |
| (ခ) | စက်ပစ္စည်းများ | - | ၂,၀၃၈.၂၀ (US$၁.၆၉၉သန်း) | ၂,၀၃၈.၂၀ |
| (ဂ) | မော်တော်ယာဉ် | - | ၂၁၆.၀၀ | ၂၁၆.၀၀ |
| (ဃ) | အဆောက်အဦတည်ဆောက်မှု | ၂,၄၂၉.၄၇ | - | ၂,၄၂၉.၄၇ |
| (င) | လျှပ်စစ်ပစ္စည်းများ | ၁၅၀.၀၀ | - | ၁၅၀.၀၀ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၄,၁၁၉.၄၇ | ၂,၂၅၄.၂၀ (US$ ၁.၈၇၉ သန်း) | ၆,၃၇၃.၆၇ |

ကန့်သတ်

၆။ လုပ်ငန်းဆောင်ရွက်ရန် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်းဦးရေ (၂၂၆) ဦးနှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း (၁) ဦး စုစုပေါင်း (၂၂၇) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်း၏ လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း၏လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်းတစ်ဦး၏ ပုံသေလစာမှာ အမေရိကန် ဒေါ်လာ ၄,၇၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပြီး ပုံမှန်နှစ် (၆ နှစ်မြောက်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု အရေအတွက်(Ton) | ရောင်းဈေးနှုန်း (Ton/ကျပ်) |
|---|---|---|---|
| (က) | Comet 15 + 7 +7 | ၇.၈၃ | ၄၅၃,၀၀၀ |
| (ခ) | Shwe Comet 20+12+12 | ၁၈.၈၀ | ၅၃၃,၀၀၀ |
| (ဂ) | Comet 15+10+15 | ၇.၈၃ | ၄၉၃,၀၀၀ |
| (ဃ) | Comet 15+15+15 | ၁၅.၆၆ | ၅၇၃,၀၀၀ |
| (င) | Comet 16+16+8 | ၁၂.၅၃ | ၅၄၃,၀၀၀ |
| (စ) | Comet N Super | ၇.၈၃ | ၄၈၃,၀၀၀ |
| (ဆ) | Comet N 46% | ၃၁.၃၃ | ၄၂၃,၀၀၀ |
| (ဇ) | Comet G 21% | ၃၉.၁၆ | ၃၁၃,၀၀၀ |
| (ဈ) | Paung Thae Apinkaung | ၅၀.၁၃ | ၂၉၃,၀၀၀ |
| (ည) | Comet Speed | ၂၃.၅၀ | ၆၆၃,၀၀၀ |
| (ဋ) | Comet V-Super | ၃၂.၁၁ | ၆၇၃,၀၀၀ |
| (ဌ) | Comet 16+16+16 | ၁၄.၁၀ | ၆၅၃,၀၀၀ |
| (ဍ) | Comet G-46 | ၃၁.၃၃ | ၄၅၃,၀၀၀ |
| (ဎ) | Nitrophoska 15+15=15 | ၂၆.၆၃ | ၇၄၃,၀၀၀ |
| (ဏ) | Nitrophoska 20+10+10 | ၇.၈၃ | ၇၀၃,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆) နှစ်မြောက်တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၆၃,၀၆၉.၀၁ |
| (ခ) | အသုံးစရိတ် | ၁၆၀,၆၈၀.၃၈ |
| (ဂ) | အသားတင်အမြတ် | ၂,၃၈၈.၆၃ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (၆) နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၇၉၆.၂၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၃ နှစ်နှင့် ၈လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၃.၀၇% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၇/၂၀၁၅၊ ဆုံးဖြတ်ချက်အပိုဒ် ၁၃၈ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(၁) စီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ရန်နှင့် EIA အစီရင်ခံစာတင်ပြရန်။

(၂) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်ကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP)ကိုရေးဆွဲတင်ပြရန်နှင့် EMPအစီအစဉ်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၃) အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်းများအတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ (၂%)ကိုအသုံးပြုခြင်းတို့အပါအဝင် လုပ်ငန်းစီမံချက်ပါ ကတိကဝတ်များအား လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း စီမံကိန်း အဆိုပြုသူ၏ ကတိဝန်ခံချက်ကို EIA အစီရင်ခံစာတွင် တင်ပြရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်စေရန်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း** (Environmental Impact Assessment - EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ (နောက်ဆက်တွဲ - ခ)

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန်လိုအပ်ကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေ နှင့် အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုတင်ပြလာသော မြေနေရာမှာ စိုက်ပျိုးရေး ဦးစီးဌာနပိုင် မြေနေရာနှင့် အဆောက်အဦများ ဖြစ်ပြီး ချုပ်ဆိုထားသည့် ငှားရမ်းခြင်း သဘောတူ စာချုပ် ပါ သဘောတူညီချက်များ အတိုင်း ဆောင်ရွက်ရန် ဖြစ်ပြီး ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်သည် ၃၀-၆-၂၀၁၅ အထိ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၃၇၂,၀၇၂,၆၉၁.၅၈ နှင့် ရောဝတီ ဘဏ်တွင် ၃၀-၆-၂၀၁၅ အထိ ကျပ် ၁,၇၆၂,၁၂၄,၃၀၆.၄၄ ရှိ ကြောင်း အထောက်အထား များအား တင်ပြ ထားပါ သည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြား မှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှု အတွက် မီးငြိမ်းသတ်ရန် အဖွဲ့ ဖွဲ့စည်းခြင်း၊ မီးသတ် ဆေးဘူး များ၊ မီးသတ် ရေပုံး၊ မီးသတ်စင်၊ မီးကပ်၊ မီးချိပ်၊ သဲ၊ ဂေါ်ပြား၊ ၁၂,၀၀၀ ဂါလံဆန့် မီးသတ် ရေကန်နှင့် ၅,၀၀၀ ဂါလံဆန့် ရေလှောင် ကန်တို့ ထားရှိ မည် ဖြစ် ကြောင်း မီးငြိမ်းသတ်ရေး အစီအစဉ်တွင် တင်ပြ ထားပါသည်။

၁၃။ မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်မှ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ဝန်ထမ်း များ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး စီမံချက်၊ လစာခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်နှင့် လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြ ထားပါသည်။

၁၄။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၅။ မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲ မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပသော ၃၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၈။ **စိစစ်တင်ပြချက်**

(က) လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် မြန်မာ့သြဘာလုပ်ငန်းစု ကုမ္ပဏီလီမိတက်တို့သည် ၁-၁၂-၂၀၁၂ ရက်နေ့တွင် ငှားရမ်း သဘောတူ စာချုပ် ချုပ်ဆိုပြီး ဖြစ်ပြီး မူလစာချုပ်တွင် မြေငှားရမ်းခြင်းအား တစ်နှစ်ခြင်း အတည်ပြုချက်ဖြင့် ၅ နှစ်အစား ပြင်ဆင်ချက်စာချုပ်တွင် ကနဦး ၁၀ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဟုလည်းကောင်း၊ မူလစာချုပ်တွင် ငှားရမ်းမည့် မြေဧက ၅.၄ ဧက အစား ပြင်ဆင်ချက် စာချုပ်တွင် ၇.၄၀ ဧကဟု ပြင်ဆင်ချုပ်ဆိုထားပြီး မူလစာချုပ်နှင့် ပြင်ဆင်ချုပ်ဆိုထားသည့် ပြင်ဆင်သဘောတူစာချုပ်တို့အား တင်ပြထားပါသည်။

(ခ) ကုန်ကြမ်းနှင့် ကုန်ချောများအား ဂိုဒေါင်များခွဲ၍ သီးခြားသိုလှောင်မည် ဖြစ်ကြောင်း၊ ကုန်ကြမ်းများကို ထုတ်လုပ်မှု အမှာအလိုက် သိုလှောင်မည် ဖြစ်ပြီး အများဆုံး ၃ လစာသာ သိုလှောင်ထားရှိမည် ဖြစ်ကြောင်း၊ ကုန်ကြမ်းများအား လေဝင်လေထွက်ကောင်းမွန်ပြီး၊ ဘေးအန္တရာယ် မဖြစ်စေရန် စနစ်တကျ နေရာ ချထားသိုလှောင်မှု စနစ်များကို MSDS (Material Safety Data Sheet) လမ်းညွှန်မှုနှင့် အညီ ဖြစ်စေရန် သိုလှောင်မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(ဂ) ထုတ်လုပ်မည့် ထုတ်ကုန်အချို့တွင် NPK 20 + 12+12 မှာ စပါး၊ ပြောင်း၊ ကြံနှင့် အခြားသီးနှံများ၏ အဓိက လိုအပ်သော အပင် အဟာရပိုင်းဆိုင်ရာ နိုက်ထရိုဂျင်၊ ဖော့စဖိတ်၊ ပိုတက်စီများ ပြည့်ဝစွာ ရရှိစေခြင်းဖြင့် အထွက်နှုန်းတိုးစေရန် ဖြစ်ကြောင်း၊ NPK 15+15+15 မှာ နိုက်ထရိုဂျင်၊ ဖော့စဖိတ်၊ ပိုတက်အဟာရများကို အချိုးညီစွာ သီးနှံများတွင်သုံးစွဲခြင်းဖြင့် အထွက်နှုန်းအမြင့်ဆုံးရရှိစေရန် ဖြစ်ကြောင်း၊ NPK 15+10+20 မှာ တန်ဖိုးမြင့် သီးနှံများနှင့် သစ်သီးဝလံ များအတွက် အရေးကြီးသည့် အဟာရများ မျှတစွာ ဖြည့်ဆည်း ပေးခြင်းဖြင့် အရည် အသွေးကောင်း သီးနှံများ ရရှိစေရန် ဖြစ်ကြောင်း၊ NPK 20+10+10 မှာ ပင်ပိုင်း ဆိုင်ရာ ကြီးထွားနှုန်း မြန်ဆန်ရန် လိုအပ်သော ဟင်းသီး ဟင်းရွက်အပင်များတွင် သုံးစွဲခြင်းဖြင့် အချိန်တိုအတွင်း လိုအပ်သည့် အပင်အဟာရများ ဖြည့်ဆည်းပေးရန် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ဓာတ်မြေသြဇာများအား ကိုင်တွယ်သုံးစွဲခြင်းအတွက် သုံးစွဲနည်းများကို သုံးစွဲသူ တောင်သူ လယ်သမားများအား ဖိတ်ကြားစုစည်းပြီး ရုပ်ပုံကားချပ်များ၊ ပါဝါပွိုင့် ဆလိုက်များဖြင့် ရှင်းလင်းပြသ၍ လေ့လာမှု အနည်းဆုံးနှင့် အကျိုးရှိဆုံး သုံးစွဲပုံ

နည်းစနစ်များကို နည်းပညာပေးမည်ဖြစ်ပြီး သီးနှံစိုက်ခင်းထဲများတွင်လည်း သုံးစွဲပုံသုံးစွဲနည်းများကို လက်တွေ့သရုပ်ဖော်ပြမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(င) ထုတ်လုပ်ပြီးဓာတ်မြေဩဇာများကို မြန်မာနိုင်ငံတွင် မှတ်ပုံတင်အသုံးပြုခွင့် ရရှိထားသော ကြီးထွား၊ ကောမက်၊ ရွှေကောမက်၊ Comet စသည့်တံဆိပ်များကို အသုံးပြုမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(စ) ၂၀၁၅ ခုနှစ် ပြည်ထောင်စု၏ အခွန်ကောက် ဥပဒေပြဋ္ဌာန်းချက် အခန်း(၅)၊ အပိုဒ် ၁၁ (ဂ) တွင် ကုန်သွယ်လုပ်ငန်းခွန် မကျသင့်စေရဟု ဖော်ပြထားသည့် လုပ်ငန်း အမျိုးအစား များတွင် ဓာတ်မြေဩဇာ ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းရှိ သိုလှောင်ရုံ အဆောက်အဦများအားငှားရမ်း၍ ဓာတ်မြေဩဇာ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

FROM : FAX NO. :02 17 Nov. 2015 2:12PM P1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆(၃၁၇)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၇၄ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁ . ၁၀ . ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၃ / မ - ၁၂၆၈ / ၂၀၁၅ (၁၃၄၅)

၁။ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းရှိ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေဧရိယာ ၇.၄၀ဧက(၂၉၉၄၆.၇၆၄ စတုရန်းမီတာ)အား မြန်မာ့သြဘာ အုပ်စုကုမ္ပဏီလီမိတက်က ငှားရမ်းပြီး ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ရန်အတွက် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လျှောက်ထားမြေနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်၊၂၀(ခ)၊ အလျှားအနောက်ကွင်း၊ ဦးပိုင်အမှတ်(၂၈/၂၊ ၃၁၊ ၃၀/၁၊ ၃၉၊ ၄၀၊ ၄၂/၂)၊ မြေအမျိုးအစား(Y2)၊ မြေဧရိယာ(၇.၂၀)ဧကနှင့် OA(၀.၂၀)ဧက စုစုပေါင်း (၇.၄၀)ဧကဖြစ်ကြောင်း၊ မန္တလေးတိုင်းပြည်သူ့ကောင်စီ၏ (၁၂.၁.၁၉၈၄)ရက်စွဲပါ စာအမှတ်၊ ၅၅၁၂/ ၂၂၉/၈၄ဖြင့် ၁၉၅၃ခုနှစ် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ - ၃၉အရ လယ်ယာမြေ အား အခြားနည်းအသုံးပြုခွင့်ကို စိုက်ပျိုးရေးဦးစီးဌာနမှရရှိထားပြီး ခွင့်ပြုသည့် နည်းလမ်းအတိုင်း အသုံးပြုထားပါကြောင်း၊ စိုက်ပျိုးရေးဦးစီးဌာနပိုင်(ပလိပ်)သို့လျှောက်ရုံအဖြစ် (၂၃.၇.၂၀၁၃)ရက်နေ့ တွင် ဂရန်ရရှိရေး လျှောက်ထားဆောင်ရွက်ပြီးဖြစ်ပါကြောင်း၊ ဌာနပိုင်မြေ(၇.၄၀)ဧကအား မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ငှားရမ်း လုပ်ကိုင်မည်ဆိုပါက လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ စိစစ်တွေ့ရှိချက်များအပြင် အဆိုပြုလုပ်ငန်းနှင့်ပတ်သက်ပြီး တိုင်းဒေသကြီး၏ စိုက်ပျိုးရေး လုပ်ငန်းများအတွက် လိုအပ်သည့် ဓာတ်မြေသြဇာများကို လုံလောက်စွာရရှိစေခြင်း၊ ဒေသဖွံ့ဖြိုးတိုး တက်စေရေးကိုလည်း အထောက်အကူဖြစ်စေသည့် လုပ်ငန်းတစ်ခုဖြစ်ပြီး အောက်ဖော်ပြပါ အချက် များနှင့်လည်း ကိုက်ညီမှုရှိသည်ကို စိစစ်တွေ့ရှိရပါသည် -

(က) နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဂ) အဆိုပြုမြေနေရာကို လုပ်ငန်းဆောင်ရွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ခြင်း၊

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ။

၄။ သို့ဖြစ်ပါ၍ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်က စဥ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းရှိ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေဧရိယာ ၇.၄၀ ဧက(၂၉၉၄၆.၇၆၄၈တုရန်းမီတာ)၌ ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၁၀.၁၁.၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၇/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ်(၁၃၈)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လုညွှ်လည်စာတွဲ၊

ရုံးလက်ခံ။

၉၉၁၄

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

NPS. 4896
22.10.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၉၀၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၁ ရက်

သို့

7.1919
23/10

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၂၆၈ / ၂၀၁၅ (၁၃၄၆)

၁။ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန ၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းရှိ မြေဧရိယာ (၇.၄၀) ဧက (၂၉၉၄၆.၇၆၄ စတုရန်းမီတာ) အား ငှားရမ်း၍ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ စက်ရုံတည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖုန်အမှုန်များ နှင့် စွန့်ပစ်ပစ္စည်းများ/ စွန့်ပစ်ရေများ၊ ဓာတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများမှ ထွက်ရှိလာသော အမှုန်အမွှားများ ၊ အနံ့အသက်များ ၊ စွန့်ပစ်အရည်များသည် ပတ်ဝန်းကျင် လေထု ၊ ရေထု နှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်မှ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ရန်နှင့် EIA အစီရင်ခံစာတင်ပြရန်၊

(ခ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်ကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်းများအတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ (၂ %) ကိုအသုံးပြုခြင်းတို့ အပါအဝင် လုပ်ငန်းစီမံချက်ပါ ကတိကဝတ်များအား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း စီမံကိန်း အဆိုပြုသူ၏ ကတိခံဝန်ချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(signature) ၂၇/၁၀

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

၂၇/၁၀

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ (၂) ၂၀၁၅ - ၂၀၁၆( ၂၃၃၅ )

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၃ ရက်

သို့

M-1870 16/10

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၁၀. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၆၈ / ၂၀၁၅ (၁၃၄၇)

၁။ မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဓါတ်မြေဩဇာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး ဓါတ်မြေဩဇာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်မှ ဓါတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီး မြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီ ညွတ်ပါ က ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂-၁၀-၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

KT- 1943
27/10

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁ / Awba Co.Ltds ( ၅၅၂ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ ၂၇ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁.၁၀.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၂၆၈/၂၀၁၅ (၁၃၄၈)

၁။ မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ် ကြားစခန်းရှိ မြေဧရိယာ ၇.၄၀ ဧက (၂၉၉၄၆.၇၆၄ စတုရန်း မီတာ) အား ငှားရမ်း၍ ဓာတ်မြေသြဇာ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များကို ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံတောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တင်ပြလာသောမြေနေရာမှာ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေနေရာနှင့် အဆောက်အဦများဖြစ်ပြီး စိုက်ပျိုးရေးဦးစီးဌာနမှ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက် သို့ ငှားရမ်းထားခြင်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ချုပ်ဆိုထားသည့် ငှားရမ်းခြင်းသဘောတူ စာချုပ်ပါ သဘောတူညီချက်များအတိုင်းဆောင်ရွက်ရန်ဖြစ်ပြီး လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ဒုတိယဝန်ကြီး(လယ်ယာ/ဆည်မြောင်း) ၏ကိုယ်ရေးအရာရှိ
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# မြန်မာ့သြဘာအုပ်စုကုမ္ပဏီ လီမိတက်

# (ဓါတ်မြေသြဇာထုတ်လုပ်ခြင်းလုပ်ငန်းစီမံကိန်း)
# (ပလိပ်)

× × × × × × × × × × × × × × × ×

စိုက်ပျိုးရေးဦးစီးဌာန
စာအမှတ် ———
ရက်စွဲ ———

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဖုန်း ၉၅-၆၇-၄၁၀၁၃၉
ဖက်(စ်) ၉၅-၆၇-၄၁၀၁၃၈
Email : dgdoamm@gmail.com

ညွှန်ကြားရေးမှူးချုပ်ရုံးခန်း
ဖုန်း : ၉၅-၆၇-၄၁၀၀၀၇
ဖက်စ် : ၉၅-၆၇-၄၁၀၁၃၈

စာအမှတ် - ညခရ/စဥစ/MIC/၂၀၁၅(၁၅၈)
ရက်စွဲ -၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ( ၂၃ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြန်မာ့သြဘာလုပ်ငန်းစု ကုမ္ပဏီလီမိတက်မှ မြေသြဇာထုတ်လုပ်မည့် လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလိုသည့်အပေါ် သဘောထားမှတ်ချက် တင်ပြခြင်း**

ရည်ညွှန်းချက်။ မြန်မာ့သြဘာလုပ်ငန်းစု ကုမ္ပဏီလီမိတက်၏ (၂၃-၉-၂၀၁၅)ရက်စွဲပါ တင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာ့သြဘာလုပ်ငန်းစု ကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ ပလိပ်ကြားစခန်းသိုလှောင်ရုံအပါအဝင် မြေဧရိယာ(၇.၄)ဧကအား စာချုပ်အမှတ်-MAS/P&D/2-023/2011-12 ဖြင့် နှစ်(၂၀)ငှားရမ်းခွင့်ရရှိခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါ ငှားရမ်းခွင့်ရရှိထားသော မြေနေရာတွင် မြေသြဇာထုတ်လုပ်မည့် လုပ်ငန်းများ လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိရေး လျှောက်ထားလိုသည့်အပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိ သဘောတူပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

(ကျော်ရွှေ)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
- ရုံးလက်ခံ/နေ့စဉ်/မျှော

